ကန့်သတ်

ကုမ္ပဏီအမည် - Shwe Kanbawza Company Limited

လုပ်ငန်း - မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ဆီအုန်း စိုက်ပျိုးခြင်းနှင့် ဆီကြိတ်စက်၊ ဆီချော ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁-၁၁-၂၀၁၃ | | |
| ၂ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) စီမံကိန်း စိစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန | ၂၁-၁၀-၂၀၁၄ | ၃၁-၁၀-၂၀၁၄ | |
| | (ခ) တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၄-၁၁-၂၀၁၃ | ၂၇-၁-၂၀၁၄ | |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၄-၁၁-၂၀၁၃ | ၆-၁၂-၂၀၁၃ | |
| | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန (ဒုတိယအကြိမ်) | ၂-၁-၂၀၁၄ | ၂၃-၁-၂၀၁၄ | |
| | (ဃ) လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန | ၄-၁၁-၂၀၁၃ | ၂၉-၁-၂၀၁၄ | |
| | လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန (ဒုတိယအကြိမ်) | ၁၇-၁-၂၀၁၄ | ၂၉-၁-၂၀၁၄ | |
| ၃ | PAT တင်ပြခြင်း | ၇-၁၁-၂၀၁၃<br>၂၈/၂၀၁၃ | | |
| ၄ | PATဆုံးဖြတ်ချက်အရ လိုအပ်ချက်များ အကြောင်းကြားခြင်း | ၁၈-၁၁-၂၀၁၃<br>၃-၁-၂၀၁၄ | | |
| ၅ | သဘောထားမှတ်ချက်များအရ လိုအပ်ချက်များအား အကြောင်းကြားခြင်း | ၃၁-၁-၂၀၁၄<br>၂-၁-၂၀၁၄ | | |
| ၆ | အဆိုပြုချက်ပြန်လည်ပေးပို့ခြင်း | ၇-၂-၂၀၁၄ | | |
| | **စုစုပေါင်းကြာမြင့်ချိန်** | **၉၉ ရက်** | | |
| ၁ | ကုမ္ပဏီမှ အဆိုပြုချက် ပြန်လည်ပြင်ဆင် တင်ပြလာသည့်နေ့ | ၂၇-၁-၂၀၁၄ | | |
| ၂ | PAT တင်ပြခြင်း | ၂-၂-၂၀၁၅<br>၅/၂၀၁၅ | | |
| ၃ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၄-၂-၂၀၁၅ | | |
| ၄ | MIC အစည်းအဝေးသို့ တင်ပြရန် ပြုစုခြင်း | ၁၈-၂-၂၀၁၄ | | |
| | **စုစုပေါင်းကြာမြင့်ချိန်** | **၂၃ ရက်** | | |

ကန့်သတ်

၁။ ကုမ္ပဏီအမည် ရွှေကမ္ဘောဇ ကုမ္ပဏီလီမိတက်
၂။ အဖွဲ့အစည်းပုံသဏ္ဍာန် ရာခိုင်နှုန်းပြည့် နိုင်ငံသား ရင်းနှီးမြှုပ်နှံမှု
၃။ လုပ်ငန်းအမျိုးအစား ဆီအုန်းစိုက်ပျိုးခြင်းနှင့် ဆီကြိတ်မိမ်း၊ ဆီချော ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း
၄။ တည်နေရာ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်၊ တမုတ်ချုံးကျေးရွာအုပ်စုနှင့် သိန်ခွန်းကျေးရွာအုပ်စုဒေသများရှိ စုစုပေါင်း မြေအကျယ်အဝန်း ၂၇,၆၈၂ ဧက
၅။ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ကျပ် ၄၈၇၇၆.၅၀ သန်း
၆၊ ရောင်းချမည့်စနစ် ပြည်တွင်း
၇။ အရင်းကြေကာလ ၇ နှစ် နှင့် ၈ လ
၈။ IRR ၂၂.၀၃%

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁။ | နိုင်ငံဝန်ထမ်းလစာ | ၁.၅၅ | |
| ၂။ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၇ |
| ၃။ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၂၂၁.၇၆ | |
| ၄။ | ကုန်သွယ်လုပ်ငန်းခွန် | | |
| ၅။ | ဝင်ငွေခွန် | ၁၃၄၇.၅၉ | ၁၀၆၂၆.၉၇ |
| ၆။ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | Steam Turbine ဖြင့် လျှပ်စစ် ထုတ်ယူသုံးစွဲသွားမည်ဖြစ်ပါသည်။ |
| ၇။ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ်သိန်း နှစ်ဆယ် ထက်ကျော်ပါ အခွန် ပေးရမည့် ဝန်ထမ်း (၁၇) ဦး |
| ၈။ | CSR (၂%) | | ၁၀၇.၈၀၇ |
| ၉။ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၁၃၄၈ ဦး<br>ပြည်ပ ၁၀ ဦး<br>ပြည်တွင်းလုပ်သား (၁၃၄၈)ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင်အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှု ကို အထောက်အကူ ပြုစေပါသည်။ |
| | | ၁၅၇၀.၈၉ | ၁၀၇၃၅.၉၄ |
| | Cost & Benefit | ၁:၆ | |

အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Shwe Kanbawza Company Limited မှ ဆီအုန်း စိုက်ပျိုးခြင်းနှင့် ဆီကြိတ်ခြင်း၊ ဆီချော ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းကိစ္စ

| | | | | | |
|---|---|---|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Shwe Kanbawza Company Limited<br>- ဒေါ်နန်းသန်းထွေး | | | |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- ဒေါ်နန်းသန်းထွေး ၅၀%<br>- ဦးအောင်ကိုဝင်း ၅၀% | | | |
| | လုပ်ငန်းအမျိုးအစား | - ဆီအုန်း စိုက်ပျိုးခြင်းနှင့် ဆီကြိတ်ခြင်း၊ ဆီချော ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း | | | |
| ၂။ | လုပ်ငန်းတည်နေရာ | - တနင်္သာရီတိုင်းဒေသကြီး ၊မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်၊ တောင်ဖရူး ကြိုးဝိုင်း၊ တမုတ်ချုံး ကျေးရွာအုပ်စု၊ ကွင်းအမှတ်-O.S.S-၅ အင်းတော်ကွင်း၊ သိန်ခွန်းကျေးရွာအုပ်စု၊ ကွင်းအမှတ် O.S.S-၉ သိန်ခွန်းကွင်းနှင့် ကော့ယွန်းကွင်း | | | |
| | မြေအကျယ်အဝန်း | - စုစုပေါင်း ၂၇,၆၈၂ ဧက<br>(မြေအားလုံးသည်ရွှေကမ္ဘောဇကုမ္ပဏီလီမိတက် အမည်ဖြင့် လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့် ရရှိထားပြီးဖြစ်ပါသည်။) | | | |
| ၃။ | တည်ဆောက်ရေးကာလ | - ၁ နှစ် | | | |
| ၄။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | **- ကျပ် ၄၈,၇၇၆.၅၀ သန်း** | | | |
| | ထည့်ဝင်သည့်အမျိုးအစား | | **ကျပ် (သန်း)** | **USD (သန်း)** | **စုစုပေါင်း ကျပ် (သန်း)** |
| | ငွေသား | | ၁၃၅.၃၀ | | ၁၃၅.၃၀ |
| | အဆောက်အဦ | | ၁၃၅.၆၅ | | ၁၃၅.၆၅ |
| | စက်ပစ္စည်းကိရိယာများ | | | ၄၂.၀၀ | ၄၀,၃၂၀.၀၀ |
| | စက်ရုံသုံးပရိဘောဂ | | ၂၀၄.၁၂ | | ၂၀၄.၁၂ |
| | စက်ယာဉ်၊ယန္တရား | | ၃၉၆.၀၂ | ၂.၃၀ | ၂,၆၁၃.၆၂ |
| | မော်တော်ယာဉ် | | ၃၈၀.၈၀ | | ၃၈၀.၈၀ |
| | ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | | ၁၂၀.၀၀ | | ၁၂၀.၀၀ |
| | ကနဦးစိုက်ပျိုးစရိတ် | | | ၅.၀၇ | ၄၈၆၇.၀၀ |
| | **စုစုပေါင်းထည့်ဝင်ရင်းနှီးငွေ** | | **၁,၃၇၁.၉၀** | **၄၉.၃၈** | **၄၈,၇၇၆.၅၀** |

| | | |
|---|---|---|
| ၅။ | ဝန်ထမ်းအင်အား | - **၁၅၈ ဦး** |
| | ပြည်တွင်း | - ၁၄၈ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ကျပ် ၉၀,၀၀၀နှင့် အမြင့်ဆုံးလစာ ကျပ် ၆၀၀,၀၀၀)<br>- ပြည်တွင်း နေ့စား ခြံလုပ်သား ၁၂၀၀ ဦး ခန့်မည်ဖြစ်ပြီး နေ့တွက် စရိတ်အနေဖြင့် တစ်နေ့လျှင် ကျပ် ၅၀၀၀ ဖြစ်ပါသည်။ |
| | ပြည်ပ | - ၁၀ ဦး (ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ US$ ၂,၀၀၀ နှင့် အမြင့်ဆုံးလစာ US$ ၄,၀၀၀) |
| ၆။ | ရောင်းချမည့်စနစ် | - ၁၀၀% ပြည်တွင်းရောင်း |
| ၇။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် | |
| | ဝင်ငွေခွန် | - ကျပ် ၁,၆၂၆.၄၄ သန်း |
| | အရင်းကြေကာလ | - ၇ နှစ် ၈ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၂၂.၀၃ % |
| ၈။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - လုပ်ငန်းတွင် အသုံးပြုရန်အတွက် Steam Turbine ဖြင့် လျှပ်စစ် ထုတ်ယူသုံးစွဲသွားပါမည်။ |
| ၉။ | CSR | - အမြတ်ငွေ၏ ၂% အား CSR ရန်ပုံငွေအဖြစ် ထားရှိသုံးစွဲသွားမည်ဖြစ်ပြီး ထို ၂% အနက်မှ ပညာရေးအတွက် ၂၅%၊ ကျန်းမာရေးအတွက် ၂၅%၊ လမ်းပန်းဆက်သွယ်ရေး အတွက် ၂၅%၊ လူမှုလုပ်ငန်းများနှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး လုပ်ငန်းများအတွက် ၂၅% ထားရှိသုံးစွဲသွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၀။ | မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု အစီအစဉ် | - Steel Structure ဖြင့် အဆောက်အဦများ၊ လောင်စာကန်များကို တည်ဆောက်ခြင်း၊ ဂါလံ ၅၀၀၀၀ ဆန့် ရေလှောင်ကန် ထားရှိခြင်း၊ မီးသတ်ဘူး၊ ရေပုံး၊ မီးကပ်၊ မီးချိတ်၊ သဲအိတ်များ ထားရှိခြင်း၊ ဝန်ထမ်းများအား အရေးပေါ် မီးသတ် နည်းပညာများ လေ့ကျင့်သင်ကြားပေးခြင်း၊ ဆေးလိပ်သောက်ခြင်းအား တားမြစ်ထားခြင်း၊ စွန့်ပစ်ပစ္စည်းများကို စနစ်တကျစွန့်ပစ်ခြင်း၊ စိုက်ခင်းများ၌ မီးကင်းတဲများ ထားရှိပြီး ၂၄ နာရီ စောင့်ကြည့်စေခြင်း တို့ကို ဆောင်ရွက် ထားရှိမည်ဖြစ်ပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက-၂ / မ- ၂၀၈ / ၂၀၁၅ ( ၁၅၄ )

ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၂၄ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ရွှေကမ္ဘောဇကုမ္ပဏီလီမိတက် (Shwe Kanbawza Company Limited) မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ဆီအုန်း စိုက်ပျိုးခြင်းနှင့် ဆီကြိတ်၊ ဆီချောထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်းကိစ္စ**

၁။ ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ရွှေကမ္ဘောဇကုမ္ပဏီလီမိတက် (Shwe Kanbawza Company Limited) မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်၊ တောင်ဖရူးကြိုးဝိုင်း၊ တမုတ်ချုံးကျေးရွာအုပ်စုနှင့် သိန်ခွန်းကျေးရွာအုပ်စုဒေသများရှိ စုစုပေါင်း မြေအကျယ်အဝန်း ၂၇,၆၈၂ ဧကတွင် ဆီအုန်းစိုက်ပျိုးခြင်းနှင့် ဆီကြိတ်၊ ဆီချောထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် ဒေါ်နန်းသန်းထွေး(အဘ-ဦးထွန်းရှိန်)မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုလုပ်ငန်းအား ဆောင်ရွက်မည့် တနင်္သာရီတိုင်း၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်ရှိ စုစုပေါင်းမြေအကျယ်အဝန်း ၂၇,၆၈၂ ဧကသည် ရွှေကမ္ဘောဇကုမ္ပဏီလီမိတက် အမည်ဖြင့် လုပ်ပိုင်ခွင့် ရရှိထားပြီးဖြစ်ပြီး အောက်ဖော်ပြပါ မြေနေရာများ ပါဝင်ပါသည်-

| **စဉ်** | **တည်နေရာ** | **မြေအမျိုးအစား** | | **အကျယ်အဝန်း (ဧက)** |
|---|---|---|---|---|
| (က) | တောင်ဖရူးကြိုးဝိုင်း၊ အကွက်အမှတ်-၁၊၂၊ ၃၊ ၇၊ ၈၊ ၂၁ | သစ်တောမြေ | | ၈၁၀ |
| (ခ) | တောင်ဖရူးကြိုးဝိုင်း | သစ်တောမြေ | ၈၁၂ | ၉၅၇ |
| (ဂ) | တောင်ဖရူးကြိုးဝိုင်း | သစ်တောမြေ | ၁၄၅ | |
| (ဃ) | သိန်ခွန်းကျေးရွာအုပ်စု၊ ကွင်းအမှတ် ၉-OSS (ကော့ယွန်းကွင်း) | မြေလွတ်၊မြေရိုင်း | ၂,၅၀၀ | ၅,၃၀၀ |
| (င) | တမုတ်ချုံးကျေးရွာအုပ်စု၊ကွင်းအမှတ်၅-OSS (အင်းတော်ကွင်း) | မြေလွတ်၊မြေရိုင်း | ၂,၈၀၀ | |

| စဉ် | တည်နေရာ | မြေအမျိုးအစား | အကျယ်အဝန်း (ဧက) | |
|---|---|---|---|---|
| (စ) | တမုတ်ချုံးကျေးရွာအုပ်စု၊ ကွင်းအမှတ် ၅-OSS (အင်းတော်ကွင်း) | မြေလွတ်၊ မြေရိုင်း | ၃,၉၆၄ | ၂၀,၆၁၅ |
| (ဆ) | တမုတ်ချုံးကျေးရွာအုပ်စု၊ ကွင်းအမှတ် ၅-OSS (အင်းတော်ကွင်း) | မြေလွတ်၊ မြေရိုင်း | ၄,၂၄၄ | |
| (ဇ) | တမုတ်ချုံးကျေးရွာအုပ်စု၊ ကွင်းအမှတ် ၅-OSS (အင်းတော်ကွင်း) | မြေလွတ်၊ မြေရိုင်း | ၃,၃၆၆ | |
| (ဈ) | တမုတ်ချုံးကျေးရွာအုပ်စု၊ ကွင်းအမှတ် ၅-OSS (အင်းတော်ကွင်း) | မြေလွတ်၊ မြေရိုင်း | ၄,၂၃၇ | |
| (ည) | တမုတ်ချုံးကျေးရွာအုပ်စု၊ ကွင်းအမှတ် ၉-OSS (သိမ်ခွန်းကွင်း) | မြေလွတ်၊ မြေရိုင်း | ၄,၈၀၄ | |
| | **စုစုပေါင်း** | | | **၂၇,၆၈၂** |

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ ကျပ် ၄၈,၇၇၆.၅၀ သန်း ဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| | ထည့်ဝင်သည့်အမျိုးအစား | ကျပ် (သန်း) | USD (သန်း) | စုစုပေါင်း ကျပ် (သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၁၃၅.၃၀ | | ၁၃၅.၃၀ |
| (ခ) | အဆောက်အဦ | ၁၃၅.၆၅ | | ၁၃၅.၆၅ |
| (ဂ) | စက်ပစ္စည်းကိရိယာများ | | ၄၂.၀၀ | ၄၀,၃၂၀.၀၀ |
| (ဃ) | စက်ရုံသုံးပရိဘောဂ | ၂၀၄.၁၂ | | ၂၀၄.၁၂ |
| (င) | စက်ယာဉ်၊ယန္တရား | ၃၉၆.၀၂ | ၂.၃၀ | ၂,၆၁၃.၆၂ |
| (စ) | မော်တော်ယာဉ် | ၃၈၀.၈၀ | | ၃၈၀.၈၀ |
| (ဆ) | ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | ၁၂၀.၀၀ | | ၁၂၀.၀၀ |
| (ဇ) | ကနဦးစိုက်ပျိုးစရိတ် | | ၅.၀၇ | ၄၈၆၇.၀၀ |
| | **စုစုပေါင်းထည့်ဝင်ရင်းနှီးငွေ** | **၁,၃၇၁.၉၀** | **၄၉.၃၈** | **၄၈,၇၇၆.၅၀** |



MIC memo (Shwe Kanbawza)

၄။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ (၁၄၈) ဦးနှင့် ပြည်ပမှ ကျွမ်းကျင်ဝန်ထမ်းဦးရေ (၁၀) ဦး စုစုပေါင်း (၁၅၈ ဦး) ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်း၏ အနိမ့်ဆုံး လစာမှာ ကျပ် ၉၀,၀၀၀ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၆၀၀,၀၀၀ ဖြစ်ကြောင်းနှင့် ပြည်ပဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၂,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ US$ ၄,၀၀၀ ဖြစ်ပါသည်။ ပြည်တွင်း နေ့စား ခြံလုပ်သား ၁၂၀၀ ဦး ခန့်မည်ဖြစ်ပြီး နေ့တွက်စရိတ်အနေဖြင့် တစ်နေ့လျှင် ကျပ် ၅၀၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထုတ်ကုန်များကို ပြည်တွင်း၌ ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | အမျိုးအမည် | အရေအတွက် (တန်) | ရောင်းချမည့် ဈေးနှုန်း (ကျပ်/တန်) |
|---|---|---|---|
| (က) | FFB | ၈၈,၇၉၈ | ၉၀,၀၀၀ |
| (ခ) | CPO | ၆၃,၇၆၀ | ၆၅၀,၀၀၀ |
| (ဂ) | PK | ၁၂,၇၅၂ | ၆၅၀,၀၀၀ |
| (ဃ) | PFAD | ၂,၅၅၀ | ၄၅၀,၀၀၀ |
| (င) | RBD OL | ၄၂,၄၀၀ | ၇၆၀,၀၀၀ |
| (စ) | RBD ST | ၁၈,၁၇၀ | ၅၅၀,၀၀၀ |

၆။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ (ဆဋ္ဌမမြောက်နှစ်) တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | | ကျပ် (သန်း) |
|---|---|---|---|
| (က) | ဝင်ငွေ | - | ၅၁,၆၅၄.၈၇ |
| (ခ) | အသုံးစရိတ် | - | ၄၆,၇၇၅.၅၅ |
| (ဂ) | အသားတင်အမြတ် | - | ၄,၈၇၉.၃၂ |

၇။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ဆဋ္ဌမမြောက်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေအနေဖြင့် ဝင်ငွေခွန်မှာ ကျပ် ၁,၆၂၆.၄၄ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၇ နှစ် နှင့် ၈ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၂၂.၀၃% ဖြစ်ပါသည်။

၈။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့** မှ လျှောက်ထားမြေ ဧရိယာ ၃၅,၀၀၀ ဧက ဟု ပါရှိသော်လည်း လက်ရှိမြေပြင်အခြေအနေတွင် ၃၁,၂၂၉ ဧကသာ ရှိပြီး ဒေသခံ တောင်သူများ၏ လုပ်ကွက် ၃,၅၁၄ ဧက ပါ ဝင်နေသဖြင့် ကျန် လွတ်ကင်း ဧရိယာ ၂၇,၇၁၅ ဧက ကိုသာ သက်ဆိုင်ရာဌာနများ၏ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများနှင့်အညီ ဆောင်ရွက်မည်ဆိုပါက ဒေသခံများ၏ လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အား ထိခိုက်မှုမရှိပါသဖြင့် ကန့်ကွက်ရန် မရှိကြောင်း သဘောထား ပြန်ကြားထားပါသည်။ **(ကုမ္ပဏီမှ သဘောထား မှတ်ချက်ပါ လွတ်ကင်း ဧရိယာ ၂၇,၇၁၅ ဧက အနက်မှ ၂၇,၆၈၂ ဧကကိုသာ လုပ်ငန်း လုပ်ကိုင်မည်ဟု အဆိုပြုချက် ပြန်လည်တင်ပြထားခြင်းဖြစ်ပါသည်။)**

**နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ ကုမ္ပဏီမှ အဆိုပြု လျှောက်ထားသည့် မြေနေရာသည် သစ်တောနယ်မြေနှင့် သစ်တောဖုံးလွှမ်းလျက် ရှိသည့် အစိုးရက စီမံခန့်ခွဲပိုင်ခွင့်ရှိသော မြေအတွင်းကျရောက်လျှင် သစ်တော ဥပဒေပုဒ်မ ၁၂(က) အရ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောတူညီချက် ကြိုတင်ရယူရန်နှင့် လျှောက်ထားဧရိယာအား ကွင်းဆင်းစစ်ဆေးပြီး သဘာဝ တောကောင်းဧရိယာများကို ချန်လှပ်၍ တောနိမ့် တောပျက်များတွင်သာ ခွင့်ပြုရန်၊ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် စက်ပစ္စည်းကိရိယာများနှင့် နည်းပညာများကို အသုံးပြုရန်၊ လုပ်ငန်းမစတင်မီ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (EIA) နှင့် လူမှုထိခိုက်မှု ဆန်းစစ်ခြင်း (SIA) လုပ်ငန်းများ ဆောင်ရွက်၍ အစီရင်ခံ တင်ပြရန်၊ အဆိုပါဆန်းစစ်ချက်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုများ မဖြစ်စေရေး သို့မဟုတ် ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် ဆောင်ရွက်ရမည့် အစီအမံများ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအမံများ၊ စောင့်ကြည့်လေ့လာခြင်း အစီအမံများ၊ ၎င်းအစီအမံများကို ကျခံသုံးစွဲမည့် ရန်ပုံငွေများ ပါဝင်သော ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (EMP) ရေးဆွဲတင်ပြရန်နှင့် အစီအစဉ်ပါ

အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ သစ်တောမြေအတွင်း ကျရောက်နေသည့် လျှောက်ထားမြေနေရာသည် သက်ဆိုင်ရာ နယ်မြေသစ်တော ဦးစီးဌာနမှ ကွင်းဆင်းစစ်ဆေးပြီး အဖိုးတန်သစ်များ ပေါက်ရောက်မှုမရှိသည့် တောနိမ့်၊ တောပျက်၊ တောကျဲပါးသည့် သတ်မှတ်ခွင့်ပြုနိုင်သည့် ဇုန်ဧရိယာ ဖြစ်ပါက ကုမ္ပဏီသို့ နှစ်စဉ် အမှန်တကယ်ဆောင်ရွက်မည့် လုပ်ငန်းစီမံချက် ရေးဆွဲတင်ပြစေပြီး မြေငှားခနှစ်စဉ် ပေးသွင်းသည့်စနစ်ဖြင့် တစ်နှစ်ခြင်း စိစစ်ခွင့်ပြု၍လည်းကောင်း၊ ခွင့်ပြုရာတွင် သစ်တောသစ်ပင်ပေါက်ရောက်မှုရှိပါက မြန်မာ့သစ်လုပ်ငန်းမှ တစ်နှစ်ကြိုတင်သစ်ထုတ်စေပြီးမှလည်းကောင်း၊ သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေနှင့်အညီ လိုက်နာဆောင်ရွက်မည်ဆိုပါက ခွင့်ပြုပေးနိုင်ကြောင်း သဘောထား ပြန်ကြားထားပါသည်။ **(ကုမ္ပဏီမှ ကော်မရှင်သို့ EIA၊ SIA နှင့် EMP အစီအစဉ်များ တင်ပြထားပြီးဖြစ်ပါသည်။)** **နောက်ဆက်တွဲ -ခ**

(ဂ) **လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် မြေဧက ၃၅,၀၀၀ အနက် မြေလွတ်မြေရိုင်း ဧရိယာ ၂၆,၉၁၄ ဧက ပါဝင်နေကြောင်း၊ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲရေး ဥပဒေပုဒ်မ ၅ အရ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများစီမံခန့်ခွဲရေးဗဟိုကော်မတီသို့ လျှောက်ထားရမည်ဖြစ်ကြောင်း၊ အဆိုပြုချက်ပါ မြေဧက ၃၅,၀၀၀ အနက်မှ ၅၃၀၀ ဧကသည် ၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၃ ရက်နေ့တွင် မြေခွန်ကင်းလွတ်ကာလ ပြီးဆုံးပြီဖြစ်သဖြင့် နည်းဥပဒေ ပုဒ်မ ၄၀(က) (၁) အရ နှစ်ရှည်ပင်စိုက်ပျိုးမြေ ဖြစ်လျှင် အမှန်စိုက်ဧက ၁ ဧကအတွက် ကျပ် ၃၀၀၀ နှုန်းဖြင့် မြေခွန် မပျက်မကွက်ပေးဆောင်ရမည်ဖြစ်ကြောင်း၊ စားသုံးဆီချောစက်ရုံ တည်ဆောက်လည်ပတ်၍ လက်တွေ့ရင်းနှီးမြှုပ်နှံပြီး အကောင်အထည်ဖော်မည့်ကာလအား တိတိကျကျ သတ်မှတ်ချက်ဖြင့် ခွင့်ပြုပေးရန် သင့်လျော်ကြောင်း သဘောထားပြန်ကြားထားပါသည်။ **(မြေဧရိယာ ၅၃၀၀ ဧက အတွက် ကြေးတိုင်နှင့်မြေစာရင်းဦးစီးဌာနမှ ထုတ်ပေးထားသော စိုက်ပျိုးမှုအတွက် လုပ်ပိုင်ခွင့်ပြုသော အမိန့်စာနှင့် မြေစာရင်းပုံစံ- ၁၀၅ တို့ကို တင်ပြထားပါသည်။)** **နောက်ဆက်တွဲ-ဂ**

၉။ ငွေရေးကြေးရေးအထောက်အထားအဖြစ် Nilar Yoma Gems Co., Ltd. အမည်ဖြင့် မြန်မာနိုင်ငံရှိ ကမ္ဘောဇဘဏ် (ကမာရွတ်ဘဏ်ခွဲ) တွင် (၉-၁၂-၂၀၁၄) ရက်ရှိ ငွေလက်ကျန် ကျပ် ၁၁,၁၆၀.၈၄ သန်း ရှိကြောင်းကိုလည်းကောင်း၊ ကမ္ဘောဇဘဏ် (ကျောက်တံတားဘဏ်ခွဲ)တွင်

(၃၀-၁၁-၂၀၁၄) ရက်ရှိ ငွေလက်ကျန် ကျပ် ၅,၂၃၄,၈၃၅.၃၁ ရှိကြောင်းကိုလည်းကောင်း တင်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ မြေယာနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း၊ ကုမ္ပဏီသည် လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်း ကိရိယာများ၊ မီးဘေးကာကွယ်ရေး စီမံချက်၊ အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့်အခြေအနေ၊ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေး စီမံချက်နှင့် ကျန်းမာရေး စောင့်ရှောက်မှု အစီအစဉ်များ၊ ဝင်ငွေခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်း၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သန့်ရှင်းသာယာရေး စီမံချက် အစီအစဉ်နှင့် လုပ်ငန်း သဘောသဘာဝ၊ လျှပ်စစ်ဓာတ်အား ရယူသုံးစွဲမည့် အစီအစဉ်များကို တင်ပြထား ပါသည်။

၁၁။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ည၊ ဋ) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

၁၃။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် ဖေဖော်ဝါရီလ ၂ ရက်နေ့တွင် ကျင်းပ ပြုလုပ် သည့် ၅/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၂။ **စိစစ်တင်ပြချက်**

(က) ကုမ္ပဏီမှ ၂၀၁၃ ခုနှစ် နိုဝင်ဘာလ ၁ ရက်နေ့တွင် ကော်မရှင်သို့ တင်ပြခဲ့သည့် အဆိုပြုလုပ်ငန်းအား ၂၀၁၃ ခုနှစ် နိုဝင်ဘာလ ၇ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၈/၂၀၁၃ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ ပါသည်။ ကော်မရှင်မှ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာ တိုင်းဒေသကြီး အစိုးရအဖွဲ့ရုံးများနှင့် ဝန်ကြီးဌာနများသို့ သဘောထားများ တောင်းခံခဲ့ပြီး ဖြစ်ပါသည်။ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ အစည်းအဝေး ဆုံးဖြတ်ချက်အရ လိုအပ်ချက်များကို ကုမ္ပဏီမှ ရက်ပေါင်း ၉၀ အတွင်း ပြင်ဆင်တင်ပြနိုင်ခြင်း မရှိသဖြင့် ကုမ္ပဏီသို့ အဆိုပြုလွှာ ပြန်လည် ပေးပို့ခဲ့ခြင်း ဖြစ်ပါသည်။ ယခုအခါ ကုမ္ပဏီမှ ယခင်အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ အစည်းအဝေးဆုံးဖြတ်ချက်အရ

လိုအပ်ချက်များ၊ ဌာနဆိုင်ရာ သဘောထားများအရ လိုအပ်ချက်များစသည်တို့ကို ပြင်ဆင်ပြီး အဆိုပြုလွှာ ပြန်လည်တင်ပြခြင်းဖြစ်ပါသည်။

(ခ) ဒုတိယအကြိမ် အဆိုပြုချက် တင်ပြခြင်းအပေါ် သက်ဆိုင်ရာ တိုင်းဒေသကြီး အစိုးရအဖွဲ့ရုံးနှင့် သက်ဆိုင်ရာဝန်ကြီးဌာနများသို့ သဘောထားများ ပြန်လည်မတောင်းခံဘဲ ပထမအကြိမ် တောင်းခံစဉ်က ပြန်ကြားထားသော သဘောထားများကို ပြန်လည်တင်ပြထားခြင်းဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

ရွှေကမ္ဘောဇ ကုမ္ပဏီလီမိတက် (Shwe Kanbawza Company Limited) မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်၊ တောင်ဖရူးကြိုးဝိုင်း၊ တမုတ်ချုံးကျေးရွာအုပ်စုနှင့် သိန်ခွန်းကျေးရွာအုပ်စုဒေသများရှိ စုစုပေါင်းမြေအကျယ်အဝန်း ၂၇,၆၈၂ ဧကတွင် ဆီအုန်းစိုက်ပျိုးခြင်းနှင့် ဆီကြိတ်၊ ဆီချောထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြခြင်းအပေါ် သဘောတူ- မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ
ရုံးလက်ခံ/မျှောစာတွဲ

## ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | ရွှေကမ္ဘောဇကုမ္ပဏီလီမိတက် (Shwe Kanbawza Company Limited) | (၁) ဦးအောင်ကိုဝင်း ၁၃/ တကန (နိုင်) ၁၈၈၄၇၇ | အမှတ် (၆၁၅/ ၂)၊ ပြည်လမ်း၊ အမှတ်(၂) ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့ |
| | | (၂) ဒေါ်နန်းသန်းထွေး ၁၃/ တကန (နိုင်) ၀၆၆၆၇၁ | အမှတ် (၆၁၅/ ၂)၊ ပြည်လမ်း၊ အမှတ်(၂) ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့ |
| | | (၃) ဦးငွေးအောင်ကျော် ၇/ မညန (နိုင်) ၀၅၀၁၉၁ | အမှတ်-၀၀၂၊ တိုက်အမှတ်-၁၄/၂၀၊ ကွမ်းခြံ ၃ လမ်း၊ အမှတ် ၄ ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့ |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - 

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - အမှတ်-၀၀၂၊ တိုက်အမှတ်-၁၄/၂၀၊ ကွမ်းခြံ ၃ လမ်း၊ အမှတ် ၄ ရပ်ကွက်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးငွေးအောင်ကျော်

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့် လုပ်ငန်းများ - ဆီအုန်း စိုက်ပျိုးခြင်းနှင့် ဆီကြိတ်ခြင်း၊ ဆီချောထုတ်လုပ်ခြင်း လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - ၄၅၆/၁၉၉၉-၂၀၀၀ (၁၆-၇-၁၉၉၉)

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - ၁-၁၂-၂၀၁၂ မှ ၃၀-၁၁-၂၀၁၇

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
တနင်္သာရီတိုင်းဒေသကြီး

**နောက်ဆက်တွဲ-က**

စာအမှတ်၊ ၄၇၉ /၇၀၆/ ၇-၆/ အဖရ(တနင်္သာရီ)
ရက်စွဲ ၊ ၂၀၁၃ ခုနှစ်၊ ဇန်နဝါရီလ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရုံးအမှတ် (၃၂)
နေပြည်တော်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာသည့်ကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏

(၁) (၄.၁၁.၂၀၁၃)ရက်စွဲပါစာအမှတ်၊ရက-၆(က)/မ-၁၃၈၁/၂၀၁၃ (၂၈၅၆၂)ဘ

(၂) (၂.၁၂.၂၀၁၃)ရက်စွဲပါစာအမှတ်၊ရက-၆(က)/မ-၁၃၈၁/၂၀၁၃ (၂၉၆၄၉-ဓ)

၁။ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်၊ တမုတ်ချုံးကျေးရွာအုပ်စု နှင့် သိန်ခွန်းကျေးရွာအုပ်စုဒေသများရှိ မြေဧရိယာ(၃၅၀၀၀)ဧကတွင် ရွှေကမ္ဘောဇကုမ္ပဏီလီမိတက် မှ နိုင်ငံတကာအဆင့်မီ သွင်းကုန်အစားထိုး ဆီအုန်းစိုက်ပျိုးခြင်းနှင့် ဆီကြိတ်မ်း၊ ဆီချောထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်နန်းသန်းထွေး(ဘ)ဦးထွန်းရှိန် မှ တင်ပြလာမှုအပေါ် သဘောထားပြန်ကြားပေးပါရန် ရည်ညွှန်း (၁) (၂)ပါစာများဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခဲ့ပါသည်။

၂။ အဆိုပါ ညှိနှိုင်းလာခဲ့မှုအပေါ် စိစစ်ခဲ့ရာ လျှောက်ထားမြေဧရိယာ(၃၅၀၀၀)ဧကဟု ပါရှိသော်လည်း လက်ရှိမြေပြင်အခြေအနေတွင် (၃၁၂၂၉)ဧကသာရှိပြီး ဒေသခံတောင်သူများ၏ လုပ်ကွက်(၃၅၁၄)ဧက ပါဝင်နေပါသဖြင့် ကျန်ရှိသည့် (၂၇၇၁၅)ဧကကိုသာ သက်ဆိုင်ရာဌာနများ၏ ဥပဒေ၊နည်းဥပဒေ၊လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်မည်ဆိုပါက စိုက်ပျိုးလုပ်ကိုင်ခွင့်ပြုသင့်ပါကြောင်း မြိတ်ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနမှ စိစစ်တင်ပြလာခဲ့ပါသည်။

**ကန့်သတ်**



၃။ အဆိုပါ စိစစ်တင်ပြလာမှုအရ လွတ်ကင်းသည့်မြေဧရိယာ (၂၇၇၁၅) ဧကအား ဆီအုန်းစိုက်ပျိုးခြင်းနှင့် ဆီချောထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် ဒေသခံများ၏ လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အား ထိခိုက်မှု မရှိပါသဖြင့် (၂၄.၁.၂၀၁၄) ရက်နေ့တွင် ကျင်းပပြုလုပ်သော တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ ၏ အစည်းအဝေးအမှတ်စဉ် (၂/၂၀၁၄) ဆုံးဖြတ်ချက်အပိုဒ် (၃၅) အရ " လက်ရှိမြေပြင်တွင် တည်ရှိသည့် မြေဧရိယာ (၃၁၂၂၉) ဧကအနက် ဒေသခံတောင်သူပါဝင်သည့် လုပ်ကွက်ဧရိယာ (၃၅၁၄) ဧက အား ချန်လှပ်၍ လွတ်ကင်းသည့် (၂၇၇၁၅) ဧကကိုသာ သက်ဆိုင်ရာဌာနများ၏ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း သဘောထား ပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
(တင်သိန်း၊အတွင်းရေးမှူး)

မိတ္တူကို

ရွှေကမ္ဘာဧကုမ္ပဏီလီမိတက်
လက်ခံစာတွဲ
မျှောစာတွဲ

နောက်ဆက်တွဲ- ခ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

41-1395
10/12

စာအမှတ် ၂/၂၂၀(ခ)(၆)/(၈၂၄၆ /၂၀၁၃)
ရက်စွဲ ၂၀၁၃ ခုနှစ် ၊ ဒီဇင်ဘာလ ၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၄-၁၁-၂၀၁၃ ရက်စွဲပါစာအမှတ် - ရက - ၆ (က) / မ - ၁၃၈၀ / ၂၀၁၃ (၂၈၅၆၂-မ)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ Shwe Kanbawza Co., Ltd သည် တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်၊ တမုတ်ချုံးကျေးရွာအုပ်စုနှင့် သိန်ခွန်းကျေးရွာအုပ်စုဒေသများရှိ မြေ (၃၅၀၀၀) ဧကတွင် နိုင်ငံတကာအဆင့်မီ သွင်းကုန်အစားထိုး ဆီအုန်းစိုက်ပျိုးခြင်းနှင့် ဆီကြမ်း၊ ဆီချော ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် မြေနေရာတွင် လုပ်ငန်းဆောင်ရွက်ရန် သင့်/မသင့် နှင့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှု ရှိ / မရှိ စသည့် အချက်များအပေါ် စိစစ်ပြီး ဌာနဆိုင်ရာသဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာတွင် တည်ဆောက်မှု ကာလမှာ (၁) နှစ် ဖြစ်၍ ပဏာမ စူးစမ်း လေ့လာမှုပြုလုပ်မည့် ကာလမှာ (၆) လဖြစ်ပါကြောင်း၊ ဆီအုန်းစိုက်ပျိုးခြင်းနှင့် ဆီအုန်းစက်ရုံတည်ဆောက်ကာ ဆီကြမ်း၊ ဆီချော ထုတ်လုပ်၍ ပြည်တွင်း၌ ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း၊ ဆီကြမ်းထုတ်လုပ်မှုအနေဖြင့် စီမံကိန်းလုပ်ငန်း တတိယနှစ် မှ စတင်၍ တစ်နှစ်လျှင် Crude Palm Oil (CPO) ၇၀၂၀၀ တန်နှင့် Crude Palm Kernel Oil (PK) ၁၄၀၄၀ တန်၊ စုစုပေါင်း ဆီကြမ်း ၈၄၂၄၀တန် ထုတ်လုပ်သွားမည်ဖြစ်ပြီး နှစ်စဉ်တိုးချဲ့ထုတ်လုပ်သွားမည်ဖြစ်ပါကြောင်း ဖော်ပြပါရှိပါသည်။ ထို့အပြင် လုပ်ငန်းခွင်သာယာရေးနှင့် လုပ်သားများသက်သာချောင်ချိရေးအစီအစဉ်နှင့် မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေး စီမံချက်များကိုလည်း ဖော်ပြပါရှိပါသည်။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာကိစ္စရပ်များနှင့် ပတ်သက်၍ ဆီထုတ်ယူပြီး၍ ဘေးထွက်ပစ္စည်းအဖြစ် ထွက်ရှိလာသော Cake ဖတ်နှင့် ဆီသီးအခိုင်ဖတ်များကို

ဘွိုင်လာလောင်စာအဖြစ် ပြန်လည်အသုံးပြုခြင်း၊ ဘွိုင်လာမှထွက်ရှိလာသောပြာများကို စိုက်ခင်းများတွင် မြေဩဇာအဖြစ်အသုံးပြုခြင်း၊ လုပ်ငန်းခွင်သန့်ရှင်းမှုနှင့် လေဝင်လေထွက် ကောင်းမွန်အောင် စီစဉ်ထားရှိခြင်းလုပ်ငန်းများကို ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း ဖော်ပြပါရှိပါသည်။

၃။ အဆိုပြုစီမံကိန်းလုပ်ငန်းဆောင်ရွက်ရာတွင် စက်ယန္တရားကြီးများကို အသုံးပြု၍ မြေပြုပြင်ခြင်း၊ လမ်းဖောက်ခြင်းစသည့် လုပ်ငန်းများကြောင့် ထွက်ရှိမည့်အခိုးအငွေ့များ၊ ဖုန်မှုန့်များနှင့် ဆူညံသံများကြောင့် လေထုညစ်ညမ်းမှုနှင့် အသံဆူညံမှုများ ဖြစ်ပေါ်နိုင်ပါသည်။ ထို့အပြင် ဆီအုန်းစက်ရုံလည်ပတ်ရာမှ ထွက်ရှိမည့် အခိုးအငွေ့များ၊ ဆူညံသံများ၊ စွန့်ထုတ်အရည်များနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ရေထု၊ လေထု၊ မြေထု ညစ်ညမ်းမှုများနှင့် အသံညစ်ညမ်းမှုများ ဖြစ်ပေါ်နိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ Shwe Kanbawza Co., Ltd သည် တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်၊ တမုတ်ချုံးကျေးရွာအုပ်စုနှင့် သိန်ခွန်းကျေးရွာအုပ်စုဒေသများရှိ မြေ (၃၅၀၀၀) ဧကတွင် နိုင်ငံတကာအဆင့်မီ သွင်းကုန်အစားထိုး ဆီအုန်းစိုက်ပျိုးခြင်းနှင့် ဆီကြိတ်၊ ဆီချော ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ အောက်ပါအချက်များအား လိုက်နာဆောင်ရွက်သွားရန်လိုအပ်မည်ဖြစ်ကြောင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) ကုမ္ပဏီအနေဖြင့် အဆိုပြုလျှောက်ထားသည့် မြေနေရာသည် သစ်တောနယ်မြေနှင့် သစ်တောဖုံးလွှမ်းလျှက်ရှိသည့် အစိုးရက စီမံခန့်ခွဲပိုင်ခွင့်ရှိသောမြေအတွင်း ကျရောက်လျှင် သစ်တောဥပဒေ ပုဒ်မ ၁၂ (က) အရ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၏ သဘောတူညီချက် ကြိုတင်ရယူရန်နှင့် လျှောက်ထားဧရိယာအား ကွင်းဆင်းစစ်ဆေးပြီး သဘာဝတောကောင်းဧရိယာများကို ချန်လှပ်၍တောနိမ့်တောပျက်များတွင်သာ ခွင့်ပြုရန်၊

(ခ) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုများကို ရှောင်ရှားနိုင်ရန်အတွက် တည်ဆောက်ခြင်း၊ လည်ပတ်ခြင်းနှင့် ထုတ်လုပ်ခြင်း စသည့် လုပ်ငန်းအဆင့်ဆင့်ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် စက်ပစ္စည်းကိရိယာများနှင့် နည်းပညာများကို အသုံးပြုရန်၊

(ဂ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မရှိစေရေး သို့မဟုတ် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့ အတွက် လုပ်ငန်းမစတင်မီ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment- EIA) နှင့် လူမှုရေးထိခိုက်မှု ဆန်းစစ်ခြင်း(Social Impact Assessment- SIA) လုပ်ငန်းများဆောင်ရွက်၍ အစီရင်ခံတင်ပြရန်၊

(ဃ) အဆိုပါဆန်းစစ် တွေ့ရှိချက်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုများ မဖြစ်စေရေး သို့မဟုတ် ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးအတွက် ဆောင်ရွက်ရမည့် အစီအမံများ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအမံများ၊ စောင့်ကြည့်လေ့လာခြင်း အစီအမံများ၊ ၎င်းအစီအမံများကို အကောင်အထည် ဖော်ဆောင်ရွက်မည့် အချိန်ဇယား၊ ဝန်ထမ်းများနှင့် ကျခံသုံးစွဲမည့် ရန်ပုံငွေ များပါဝင်သော ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan- EMP) ရေးဆွဲတင်ပြရန်နှင့် အစီအစဉ်ပါအတိုင်း အကောင်အထည် ဖော်ဆောင်ရွက်ရန်၊

(င) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနနှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ထုတ်ပြန်ထားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ မူဝါဒ၊ ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းနှင့် ညွှန်ကြားချက်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
( မျိုး ဝင်း ၊ ရုံး အ ဖွဲ့ မှူး )

မိတ္တူ - ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

**ကန့်သတ်**

၁၈



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
## ပြည်ထောင်စုဝန်ကြီးရုံး

MIC ၁၂ / ၁၇၄

m-96
27-1-14

DDG 7 သို့
28/1

စာအမှတ် ၂/၂၂၀ (ခ) (၆)/( ၅၁၄ /၂၀၁၄)
ရက်စွဲ ၂၀၁၄ ခုနှစ်၊ ဇန်နဝါရီလ ၂၃ ရက်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂-၁-၂၀၁၄ ရက်စွဲပါစာအမှတ် ရက-၆ (က) / မ - ၁၃၈၁ / ၂၀၁၄ (၅၄-ည)

၁။ Shwe Kanbawza Co.,Ltd. သည် တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်၊ တမုတ်ချုံးကျေးရွာအုပ်စုနှင့် သိန်းခွန်းကျေးရွာအုပ်စုဒေသများရှိ မြေ(၁၅၀၀၀)ဧကတွင် နိုင်ငံတကာအဆင့်မီ သွင်းကုန်အစားထိုး ဆီအုန်းစိုက်ပျိုးခြင်းနှင့် ဆီကြမ်း၊ ဆီချော ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ အဆိုပြုဧရိယာ အတွင်း ပါဝင်သော သစ်တောကြိုးဝိုင်းမြေ (၇၁၀၀)ဧကအတွက် သဘောထားမှတ်ချက်အား ဆောလျင်စွာ ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာ ရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ သစ်တောမြေအတွင်းကျရောက်နေသည့် လျှောက်ထားမြေနေရာသည် သက်ဆိုင်ရာနယ်မြေသစ်တောဦးစီးဌာနမှ ကွင်းဆင်းစစ်ဆေးပြီး အဖိုးတန်သစ်များ ပေါက်ရောက်မှုမရှိသည့် တောနိမ့်၊ တောပျက်၊ တောကျဲပါးသည့် သတ်မှတ်ခွင့်ပြုနိုင်သည့် ဇုန်ဧရိယာဖြစ်ပါက ကုမ္ပဏီသို့နှစ်စဉ် အမှန်တကယ်ဆောင်ရွက်မည့် လုပ်ငန်းစီမံချက် ရေးဆွဲတင်ပြစေပြီး မြေငှားခနှစ်စဉ်ပေးသွင်းသည့် စနစ်ဖြင့် တစ်နှစ်ခြင်း စိစစ်ခွင့်ပြု၍လည်းကောင်း၊ ခွင့်ပြုရာတွင် သစ်တောသစ်ပင်ပေါက်ရောက်မှုရှိပါက မြန်မာ့သစ်လုပ်ငန်းမှ တစ်နှစ်ကြိုတင်သစ်ထုတ်စေပြီးမှလည်းကောင်း၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေနှင့်အညီ လိုက်နာဆောင်ရွက်မည်ဆိုပါက ခွင့်ပြုပေးနိုင်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
( မျိုး ဝင်း ၊ ရုံး အ ဖွဲ့ မှူး )

မိတ္တူ - ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

4/D:\kns\Section-B\Dssy (2014 Jan)\sansy.docx 100



နောက်ဆက်တွဲ- ဂ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်။ ၁၁ / Shwe Kanbawza(၆၉၁/၂၀၁၃)
ရက်စွဲ။ ၂၀၁၃ ခုနှစ်၊ ဒီဇင်ဘာလ ၂၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပေးပို့ခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၄-၁၁-၂၀၁၃ ရက်စွဲပါစာအမှတ်၊ ရက-၆/(က)/မ-၁၃၈၀/၂၀၁၃(၂၈၅၆၂-ဗ)

၁။ Shwe Kanbawza Co., Ltd သည် တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်၊ တမုတ်ချိုးကျေးရွာအုပ်စုနှင့် သိန်ခွန်းကျေးရွာအုပ်စုဒေသများရှိ မြေ(၃၅၀၀၀)ကေတွင် နိုင်ငံတကာအဆင့်မီ သွင်းကုန်အစားထိုးဆီအုန်းစိုက်ပျိုးခြင်းနှင့် ဆီကြိမ်း၊ ဆီချောထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြလာရာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနသို့ သဘောထားမှတ်ချက် တောင်းခံလာပါသည်။

၂။ နိုင်ငံတော်သမ္မတမှ စက်မှုကုန်ကြမ်းဆီအုန်းစိုက်ပျိုးခြင်းလုပ်ငန်း ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများအပေါ်၊ နိုင်ငံ၏နှစ်စဉ်စားသုံးဆီလိုအပ်ချက်အား ဖြည့်ဆည်းနိုင်ရေးအတွက် စားသုံးဆီချောစက်ရုံတည်ဆောက်ရင်းနှီးမြှုပ်နှံခြင်း (Down Stream Industry)အပါအဝင် လက်တွေ့ကျကျရင်းနှီးမြှုပ်နှံမှုများကို အားပေးဆောင်ရွက်ရန် လမ်းညွှန်မှုပြုထားပါသည်။

၃။ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်၊ တမုတ်ချိုးကျေးရွာအုပ်စုနှင့် သိန်ခွန်းကျေးရွာအုပ်စုရှိ ဧရိယာ(၂၈၀၀)ကေကို မြေလွတ်မြေလပ်နှင့်မြေရိုင်းများ စီမံခန့်ခွဲရေးဗဟိုအဖွဲ့၏ (၃.၁၁.၂၀၀၉) ရက်စွဲပါစာအမှတ်၊ ၆၈၇၄/၇မယ(ဖ)(၁၁)၀၉ ဖြင့် လည်းကောင်း၊ ဧရိယာ (၂၅၀၀)ကေကို (၃.၁၁.၂၀၀၉) ရက်စွဲပါ စာအမှတ်၊ ၆၈၇၃/၇မယ(ဖ)(၁၁)၀၉ ဖြင့် လည်းကောင်း၊ စုစုပေါင်း ဧရိယာ (၅၃၀၀)ကေကိုသာ ဒေါ်နန်းသန်းထွေး (Shwe Kanbawza Co., Ltd)အမည်ဖြင့် လုပ်ပိုင်ခွင့် ရရှိထားပါသည်။

၄။ Shwe Kanbawza Co., Ltd မှ အဆိုပြုသောမြေဧရိယာ (၃၅,၀၀၀)ကေအနက် နိုင်ငံတော်အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၏ (၁၀-၂-၁၉၉၉)ရက်နေ့ ခရီးစဉ်ခွင့်ပြုချက်အရ မြေဧရိယာ (၃၅,၀၀၀)ကေအား ကြိုတင်ခွင့်ပြုချက်ရရှိခဲ့ကြောင်း၊ အဆိုပါ ကြိုတင်ခွင့်ပြုဧရိယာတွင် အသုံးပြုနိုင်သည့် မြေလွတ်မြေရိုင်းဧရိယာ (၂၆၉၁၄)ကေနှင့် သစ်တောကြိုးဝိုင်းဧရိယာ (၇၁၀၀)ကေ ပါဝင်ကြောင်း စိစစ်တွေ့ရှိပါသည်။

၅။ မြေလွတ်မြေရိုင်း (၂၆၉၁၄)ဧကကို မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများစီမံခန့်ခွဲရေး ဥပဒေ ပုဒ်မ ၅ အရ မြေလွတ်၊ မြေလပ်နှင့်မြေရိုင်းများ စီမံခန့်ခွဲရေးဗဟိုကော်မတီသို့ လျှောက်ထားရမည် ဖြစ်ပြီး၊ ဥပဒေပုဒ်မ ၁၀၊ ပုဒ်မခွဲ(က)၊ ပုဒ်မခွဲငယ် (၁)အရ ဗဟိုကော်မတီအနေဖြင့် နိုင်ငံတော် အကျိုးအလို့ငှာ ခွင့်ပြုသင့်သောလုပ်ငန်းဖြစ်ပါက ပြည်ထောင်စုအစိုးရအဖွဲ့၏ သဘောတူညီ ချက်ဖြင့် တစ်ကြိမ်တည်းတွင် ဧက(၅၀၀၀)ထက်ပို၍ အမှန်တစ်ကယ် စိုက်ပျိုးနိုင်မည့်ဧကအား ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

၆။ သစ်တောကြိုးဝိုင်းမြေ (၇၁၀၀)ဧကအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန၏ သဘောထားရယူဆောင်ရွက်သွားရမည် ဖြစ်ပါသည်။

၇။ မြေလွတ်၊ မြေလပ်နှင့်မြေရိုင်းများ စီမံခန့်ခွဲရေးနည်းဥပဒေ၊ အခန်း(၄) အာမခံကြေးနှင့် မြေခွန်၊ နည်းဥပဒေ ၃၉ (က) (၁)နှင့် နည်းဥပဒေ ၄၀ တွင် အောက်ပါအတိုင်း တိကျစွာပြဋ္ဌာန်း ထားရှိပါသည်-

နည်းဥပဒေ ၃၉။ ဗဟိုကော်မတီသည် လုပ်ပိုင်ခွင့်၊ အသုံးပြုခွင့်ပြုထားသော မြေလွတ်၊ မြေလပ်နှင့်မြေရိုင်းများအတွက် မြေခွန်ကင်းလွတ်ခွင့်ကာလကို စတင် ခွင့်ပြုသည့်နေ့မှစ၍ လုပ်ငန်း အမျိုးအစား၊ သီးနှံအမျိုးအစားအလိုက် အောက်ပါအတိုင်း သတ်မှတ်ခွင့်ပြုပေးနိုင်သည်-

(က) စိုက်ပျိုးရေးလုပ်ငန်းတွင်-

(၁) နှစ်ရှည်ပင်စိုက်ပျိုးမြေဖြစ်လျှင် ၅ နှစ်၊

(၂) ဥယျာဉ်ခြံသီးနှံစိုက်ပျိုးမြေဖြစ်လျှင် ၃ နှစ်၊

(၃) ရာသီသီးနှံ၊ စက်မှုကုန်ကြမ်းရာသီ သီးနှံစိုက်ပျိုးမြေဖြစ်လျှင် ၂ နှစ်။

နည်းဥပဒေ ၄၀။ ဗဟိုကော်မတီသည် မြေလွတ်၊ မြေလပ်နှင့်မြေရိုင်းများ အသုံးပြုခြင်းမှ နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများ ထိထိရောက်ရောက် ကောက်ခံ ရရှိနိုင်စေရန်အလို့ငှာ မြေလွတ်၊ မြေလပ်နှင့်မြေရိုင်းများ လုပ်ပိုင်ခွင့်၊ အသုံးပြုခွင့်ရရှိသူက ယင်းလုပ်ပိုင်ခွင့်၊ အသုံးပြုခွင့် ရရှိထားသော မြေများအတွက် မြေခွန်ကို သီးနှံအမျိုးအစား၊ လုပ်ငန်း အမျိုးအစား အလိုက် သတ်မှတ်ထားသည့် မြေခွန်ကင်းလွတ်ခွင့် ကာလကုန်ဆုံး သည့်နေ့မှစ၍ တစ်နှစ်လျှင်တစ်ကြိမ် အောက်ပါနှုန်းထားအတိုင်း ပေးသွင်းစေရန်နှင့် ဦးစီးဌာနက စည်းကြပ်ကောက်ခံစေရန် လိုအပ်သလို ညွှန်ကြားရမည်-

(က) စိုက်ပျိုးရေးလုပ်ငန်းတွင် -

(၁) နှစ်ရှည်ပင်စိုက်ပျိုးမြေဖြစ်လျှင် အမှန်စိုက်ဧက တစ်ဧကအတွက် ကျပ် ၃၀၀၀ (ကျပ်သုံးထောင်)နှုန်း၊

(၂) ဥယျာဉ်ခြံသီးနှံ စိုက်ပျိုးမြေဖြစ်လျှင် အမှန်စိုက်ဧက တစ်ဧကအတွက် ကျပ် ၂၀၀၀ (ကျပ်နှစ်ထောင်)နှုန်း၊

(၃) ရာသီသီးနှံ၊ စက်မှုကုန်ကြမ်း ရာသီသီးနှံ စိုက်ပျိုးမြေဖြစ်လျှင် အမှန်စိုက်ဧက တစ်ဧကအတွက် ကျပ် ၁၀၀၀ (ကျပ်တစ်ထောင်)နှုန်း။

၈။ မြေလွတ်၊ မြေလပ်နှင့်မြေရိုင်းများ စီမံခန့်ခွဲရေးဗဟိုအဖွဲ့၏ (၃-၁၁-၂၀၀၉)ရက်စွဲဖြင့် ခွင့်ပြုချက်ရရှိထားသော မြေလွတ်မြေရိုင်းဧက (၅၃၀၀)သည် မြေလွတ်၊ မြေလပ်နှင့်မြေရိုင်းများ စီမံခန့်ခွဲရေးနည်းဥပဒေ ၃၉ အရ (၃-၁၁-၂၀၁၄)ရက်နေ့တွင် မြေခွန်ကင်းလွတ်ခွင့်ကာလ ပြီးဆုံးမည်ဖြစ်သဖြင့် နည်းဥပဒေ ၄၀ (က) (၁) အရ နှစ်ရှည်ပင်စိုက်ပျိုးမြေဖြစ်လျှင် အမှန်စိုက်ဧက (၁)ဧကအတွက် ကျပ်(၃၀၀၀)နှုန်း မြေခွန်ပေးသွင်းသွားရမည်ဖြစ်သည့်အတွက် သတ်မှတ်ချိန်စေ့ရောက်ပါက မပျက်မကွက်ပေးသွင်းသွားရန် လိုအပ်မည်ဖြစ်ပါသည်။

၉။ သို့ဖြစ်၍စားသုံးဆီချောစက်ရုံတည်ဆောက်လည်ပတ် လက်တွေ့ရင်းနှီးမြှုပ်နှံပြီး အကောင်အထည်ဖော်မည့်ကာလ (Time Frame) အား တိတိကျကျသတ်မှတ်ချက်ဖြင့် ခွင့်ပြုပေးရန် သင့်လျော်ပါကြောင်း သဘောထား ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
( သက်နိုင်ဦး ၊ ရုံးအဖွဲ့မှူး )

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုသီးနှံဖွံ့ဖြိုးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကြေးတိုင်နှင့်မြေစာရင်းဦးစီးဌာန
ရုံးလက်ခံ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊၁၁/Shwe Kanbawza( ၄၃/၂၀၁၄)
ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ ဇန်နဝါရီလ ၂၉ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ (၁)မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ (၄.၁၁.၂၀၁၃) ရက်စွဲပါစာအမှတ်၊ ရက-ဖ/(က)/မ-၁၃၈၁/၂၀၁၃(၂၈၅၆၂-ဗ)
(၂)လယ်ယာစိုက်ပျိုးရေး နှင့် ဆည်မြောင်းဝန်ကြီးဌာန ၏ (၂၉.၁၂.၂၀၁၃) ရက်စွဲပါစာအမှတ်၊ ၁၁/ Shwe Kanbawza (၆၆၁/၂၀၁၃)
(၃)မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် ၏ (၁၇.၁.၂၀၁၄) ရက်စွဲပါစာအမှတ်၊ ရက-ဖ/(က)/မ-၁၃၈၁/၂၀၁၃(၅၁၁-ဗ)

၁။ Shwe Kanbawza Co., Ltd. သည် တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ခရိုင်၊ တနင်္သာရီမြို့နယ်၊ တမုတ်ချိုး ကျေးရွာအုပ်စု နှင့် သိန်ခွန်းကျေးရွာအုပ်စု ဒေသများရှိ မြေ (၃၅၀၀၀) ဧကတွင် နိုင်ငံတကာ အဆင့်မီ သွင်းကုန် အစားထိုး ဆီအုန်း စိုက်ပျိုးခြင်း နှင့် ဆီကြမ်း၊ ဆီချောထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် မှ လယ်ယာ စိုက်ပျိုးရေး နှင့် ဆည်မြောင်းဝန်ကြီးဌာနသို့ သဘောထားမှတ်ချက်အား ရည်ညွှန်း (၁) ပါစာဖြင့် တောင်းခံခဲ့ရာ လယ်ယာ စိုက်ပျိုးရေး နှင့် ဆည်မြောင်း ဝန်ကြီးဌာနမှ ရည်ညွှန်း(၂)ပါစာဖြင့် ပြန်ကြား ခဲ့ပြီးဖြစ်ပါသည်။

၂။ သို့သော် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်း(၃)ပါစာဖြင့် အထက်ပါ ကုမ္ပဏီမှ ဆီအုန်းစိုက်ပျိုး မြေ (၃၅၀၀၀) ဧက တွင် အပတောမြေ (၂၇၉၀၀) ပါရှိရာ (၃၇၇၁) ဧကကို မြေလွတ်၊ မြေလပ် နှင့် မြေရိုင်း စီမံခန့်ခွဲရေး ဗဟိုကော်မတီမှ ခွင့်ပြုပြီးဖြစ်၍ အပတောမြေမှ ကျန်ရှိသည့် မြေ (၂၄၁၂၉) ဧကကို မြေအသုံးချခွင့်ရရှိရေးအတွက် လုပ်ထုံး လုပ်နည်း နှင့်အညီ စိစစ်ပြီး ခွင့်ပြုပေးနိုင်မည့် ပမာဏ ကို ပြန်ကြားပေးနိုင်ပါရန် လယ်ယာ စိုက်ပျိုးရေး နှင့် ဆည်မြောင်းဝန်ကြီးဌာနသို့ ထပ်မံ ညှိနှိုင်းမေတ္တာရပ်ခံ လာပါသည်။

၃။ အဆိုပါကိစ္စနှင့်ပတ်သက်၍ လယ်ယာ စိုက်ပျိုးရေး နှင့် ဆည်မြောင်း ဝန်ကြီး ဌာနမှ ရည်ညွှန်း(၂)ပါစာဖြင့် သဘောထားမှတ်ချက် ပြန်ကြားခဲ့သည့် စာပိုဒ်(၅)တွင် ဖော်ပြထားပြီး ဖြစ်ပါကြောင်း ပြန်ကြားအပ်ပါသည်။

ဒုတိယဝန်ကြီး(ကိုယ်စား)
(သက်နိုင်ဦး၊ရုံးအဖွဲ့မှူး)

မိတ္တူ။
- ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ရုံးလက်ခံ/-မျှောစာတွဲ